(ဖုန်း ၀၉၇၈၉၃၀၀၇၇၄")

# ဆရာတော် ဦးမင်္ဂလအတွက် ဝေဘူဆရာတော်ဘုရားကြီးနှင့် အင်ကျင်းပင်တောရနဲ့ ပတ်သက်တဲ့ မေးစရာများ

၁။ အင်ကျင်းပင်မှာ တံခွန်တိုင်အမျိုးစုံ ရှိပါတယ်။ အဲဒီ တံခွန်တိုင်တွေရဲ့ အနက်ကို သိချင်ပါတယ်။ မျှော်သိန်း:

က။ တံခွန်တိုင်အများဆုံးရဲ့ အနက်မှာ - ~~ဒါန်လှူ~~ခြင်းဖြစ်နိုင်ပါတယ်။ တကယ်လား။ တံခွန်တိုင်နှင့် ~~ဒါန်လှူ~~ခြင်း ဘယ်လို ပတ်သက်ပါလဲ ဘုရား။ ဓါးနှိုး:

ခ။ ဘုန်းကြီးကျောင်းရှိရာဌာနကို ပိုင်းခြားသတ်မှတ်တယ်တဲ့ (စော်ရှယ်လိစ်ခေတ်မှာ ဘုန်းကြီးကျောင်းအတွက် လှူထားတဲ့ မြေကို တခါတရံ လယ်သမားတို့ကို ပြန်စွန့်ခဲ့ပါတယ်။ ဒါကြောင့် တစ်ချို့ တံခွန်တိုင်တွေက ကျောင်းနယ်မြေကို မသတ်မှတ်တော့ပါဘူးတဲ့။) အရှင်ဘုရား အဲ့လို ကြားဖူးလား ဘုရား။

ဂ။ တံခွန်တိုင်တစ်ခုအထက်မှာ ပိဏ္ဍောလ ဘာရဒွါဇရဲ့ ရုပ်တု တွေ့ရပါတယ်။ မြတ်စွာဘုရား တစ်ခါတုန်းက ရဟန္တာလေးပါးကို ကမ္ဘာမှာ သာသနာပြုနိုင်းတော်မူခဲ့ပါတယ်။ ထိုရဟန္တာလေးပါးမှာ ပိဏ္ဍောလ ဘာရဒွါဇဟာ တစ်ပါးဖြစ်ပါတယ်လို့ ကိုသီဟ ကြားဖူးပါတယ်။ အဲ့ဒါ ဖြစ်နိုင်မလား ဘုရား။

*ဃ။ အရှင် ပိဏ္ဍောလ ဘာရဒွါဇက ဒီတံခွန်တိုင်မှာ ဘာကြောင့် ရုပ်တုရှိလဲဆိုတော့ သူ့ရဲ့ စိတ်စွမ်းအင် (ဣဒ္ဓိဘလ)အသုံးပြုခဲ့တဲ့ ပုံဝတ္ထုကို အမှတ်အသား ဖြစ်ပါတယ်။ အရှင် ပိဏ္ဍောလ ဘာရဒွါဇက တံခွန်တိုင်နဲ့ ဘယ်လို ဆိုင်လဲ ဘုရား။

င။ ပိဏ္ဍောလ ဘာရဒွါဇရုပ်တုပါတဲ့ တံခွန်တိုင်မှာ အပေါ်ကို တက်တဲ့ လူတွေရဲ့ ရုပ်တုတွေကို မြင်ရပါတယ်။ လောကီချမ်းသာမှုကို ရချင်တယ်ဆိုပြီး သူတို့ရဲ့ မှားလမ်းနဲ့ မိစ္ဆာဒိဋ္ဌိကို တင်ပြားတာလား ဘုရား။

၂။ အင်ကျင်းပင်အနီးမှာ နေရာဌာနတွေနဲ့ပတ်သက်ပြီး စုံစမ်းချင်ပါတယ်။

က။အင်ကျင်းပင် အနီးမှာ မြို့ဟောင်း သုံးမြို့ ရှိတယ်တဲ့ - သီ-ပုတ္တရာ၊ ယာသာနဲ့ ရွှေကာ။ ဒီမြို့ဟောင်းသုံးမြို့ရဲ့ စာလုံးပေါင်း ပြောပေးပါလား။

ခ။ အဲဒီမြို့တွေနဲ့ပတ်သက်ပြီး ဘာသိကောင်းစရာ ရှိပါသလဲ ဘုရား။ (တပည့်တော်တို့ ကြားဖူးတာမှာ ကုန်ဘောင်ခေတ်မှ အလောင်းဘုရားမင်းကြီးက ယာသာမြို့မှ မိဘုရားတစ်~~ယောက်ကို မူ~~လိုက်ပါတယ်တဲ့။ ပါး ဇော်ကောက် . တကယ်လား ဘုရား။

ဂ။ ယာသာရဲ့ ပျက်စီးခြင်း အကြွင်းအကျန်တွေကို ဒီနေ့ သီခေတ္တရာလို့ ခေါ်တယ်တဲ့။ ဒါဆို ယာသာနဲ့ သီခေတ္တရာ ဒီမြို့နေရာတွေ နေရာတစ်ခုတည်းပဲ ဖြစ်တယ်လား ဘုရား။

ဃ။ ယာသာမှာ ဖြစ်ဖြစ် သီ-ခေတ္တရာမှာ ဖြစ်ဖြစ် မြတ်စွာဘုရားရုပ်ပွားတော်တွေ ရှိသေးတယ်တဲ့။ အရှင်ဘုရား အဲဒီ ရုပ်ပွားတော်တွေကို တွေ့ဖူးလား ဘုရား။

င။ ယာသာ ဖြစ်ဖြစ် သီ-ခေတ္တရာ ဖြစ်ဖြစ် ခင်ဦးမြို့မှ အင်ကျင်းပင်ကို သွားရင် လမ်းရဲ့ ဘယ်ဘက်မှာ တွေ့လိမ့်မယ်တဲ့။ မှန်လား ဘုရား။

၃။ ဝေဘူဆရာတော်ဘုရားကြီးနှင့် ပတ်သက်တဲ့ ဆရာတော်ကြီးတွေအကြောင်းကို သိချင်ပါတယ်။

က။ ညောင်လုံးတောရဆရာတော်နဲ့ပတ်သက်ပြီး ကြားဖူးပါလား ဘုရား။ သိကောင်းစရာ ပြောပေးပါလား ဘုရား။

၁။ ဃ* ပိဏ္ဍောလ ဘာရဒွါဇ ... ကားရခြင်းမှာ ဣဒ္ဓိ နိ များကို အောင်နိုင်ခြင်း:

င။ . တံခွန်တိုင်ပေါ်တက် သူများသည် ပိဏ္ဍောလ ... နိ များ ဖြစ်သည်။

ခ။ ညောင်လုံးတောရဆရာတော်က ဝေဘူဆရာတော်နဲ့ ဘယ်လို ဆိုင်လဲ ဘုရား။

ဂ။ ရွှေဘိုပုသိမ်ဆရာတော်နဲ့ပတ်သက်ပြီး ကြားဖူးပါလား ဘုရား။ သိကောင်းစရာ ပြောပေးပါလား ဘုရား။

ဃ။ ရွှေဘိုပုသိမ်ဆရာတော်က ဝေဘူဆရာတော်နဲ့ ဘယ်လို ဆိုင်လဲ ဘုရား။

**၄။ အေဒီ ၁၉၅၈ ခုနှစ်မှာ ဝေဘူဆရာတော် ဘုရားကြီးက သီရိလင်္ကာကို သွားပြီး ဓာတ်တော်မွေတော်တွေ လက်ခံတော်မူတယ်တဲ့။ အဲဒီ ကိစ္စကို အသေးစိတ် မေးချင်ပါတယ် ဘုရား**

က။ အီတလီနိုင်ငံမှ ဦးလောကနာထက သီရိလင်္ကာမှာ ဝန်ကြီးချုပ်နဲ့ မိတ်ဆွေဖြစ်တယ်တဲ့။ ဦးလောကနာထက သီရိလင်္ကာ ဝန်ကြီးချုပ်ကို ပြောပြတယ် - မြန်မာနိုင်ငံမှာ ရဟန္တာတစ်ပါး တွေ့ဖူးတယ်တဲ့ ဝေဘူဆရာတော်ဘုရားကြီးတဲ့။ သီရိလင်္ကာ ဝန်ကြီးချုပ်ကို မြန်မာနိုင်ငံကို မလာနိုင်တာမို့ ဝေဘူဆရာတော် ဘုရားကြီးကို သီရိလင်္ကာကို ပင့်တယ်တဲ့။ ဦး လောကနာထရဲ့ မိတ်ဆွေ ဝန်ကြီးချုပ်က နာမည် ဘယ်လို ခေါ်ပါသလဲ ဘုရား။

ခ။ ဝေဘူဆရာတော်ဘုရားကြီးကို သီရိလင်္ကာမှာ ဓာတ်တော်မွေတော်တွေ ဘယ်သူ ပေးထားလဲ ဘုရား။ ဝန်ကြီးချုပ်လား သီရိလင်္ကာနိုင်ငံရဲ့ သမ္မတလား။ သူ့နာမည် ဘယ်လိုခေါ်လဲ ဘုရား။

ဂ။ ဝေဘူဆရာတော်ဘုရားကြီးကို ပေးထားတဲ့ ဓာတ်တော်မွေတော်တွေက သီရိလင်္ကာနိုင်ငံကို အရင်က ဘယ်လို ရောက်ခဲ့ပါသလဲ ဘုရား။

**၅။ ဝေဘူဆရာတော်ဘုရားကြီးက ကမ္မဋ္ဌာန်းပေးခဲ့တဲ့အခါ ထူးဆန်းတာကို မေးချင်ပါတယ်။**

က။ ဝေဘူဆရာတော်ဘုရားကြီးက မဟာစည်ဆရာတော်ဘုရားကြီးနဲ့ ဘယ်လို ဆိုင်လဲ ဘုရား။ ဘာ ဆက်ဆံမှု ရှိခဲ့ပါသလဲ ဘုရား။

ခ။ ဝင်လေထွက်လေ အာနာပါန ကမ္မဋ္ဌာန်းကို ကြွမ်းကျင်တတ်သွားတဲ့ တပည့်တို့ကို အခြား ကမ္မဋ္ဌာန်း ပြောပြလေ့ ရှိခဲ့ပါတယ်တဲ့။ အခြားကမ္မဋ္ဌာန်းဆိုတော့ ဘာ ကမ္မဋ္ဌာန်းတွေလဲ ဘုရား။

ဂ။ လက်သင် ယောဂီတွေကို အထက်နှုတ်ခမ်းမှာ ဝင်လေထွက်လေ ရှုခိုင်းတယ်၊ ကြီးရင့်တဲ့ တပည့်တို့ကိုတော့ ဦးထိပ်ကို ရှုခိုင်းတယ်။ တကယ်လား ဘုရား (ဦးထိပ်မှာ ဘာ ရှုခိုင်းသလဲ ဘုရား။)

ဃ။ သီရိလင်္ကာမှာ နိုင်ငံရေးသမားတစ်ယောက်က ဝေဘူဆရာတော်ဘုရားကြီးဆီ ကမ္မဋ္ဌာန်းယူတဲ့အခါ ဝေဘူဆရာတော်က သူ့ကို မဟာစည်ဆရာတော် ဘုရားကြီးနဲ့ တရားအားထုတ်ခိုင်းတဲ့တယ်။ ဖောင်းတာ ပိန်တာ တွေကို ဝေဘူဆရာတော်ဘုရားကြီးက ထောက်ခံတယ်တဲ့။ တကယ်လား ဘုရား။ (ဒီကိစ္စနဲ့ ပတ်သက်တာ ဘာ သိကောင်းစရာ ရှိပါသလဲ ဘုရား။)

၆ (၅) ။ သီလရှင်နှစ်ပါးရဲ့ အကြောင်းကို မေးချင်ပါတယ် ဘုရား။

က။ အမေရိကန် ဆရာလေး ဒေါ် မေဓာဝီနဲ့ ပတ်သက်တဲ့ သိကောင်းစရာ ဘာရှိပါသလဲ ဘုရား။

ခ။ သီရိလင်္ကာ ဆရာလေး အရိုးမ နဲ့ ပတ်သက်တဲ့ သိကောင်းစရာ ဘာ ရှိပါသလဲ ဘုရား။

၇ (၆၊ ၁၁) ။ အောင်တော်မူကန်တော်ကြီး (Lake of Great Victory) နဲ့ပတ်သက်ပြီး မေးချင်ပါတယ် ဘုရာ။

က။ အဲဒီကန်အနီးမှာ ကာယကန်၊ ဝါ[illegible]ကန်၊ မနောကန်ဆိုတဲ့ ရေပန်း (ဖောင်တိန်)ရှိတယ်တဲ့။ ဒီမှာ ကန်ဆိုတာ နသတ်နဲ့ ပေါင်းမလား သေးသေးတင်နဲ့ပေါင်းမလား ဘုရား။

ဝေဘူ ဆရာတော်ဘုရားကြီး ဥဿောင်ဆုံး ~~ဆရာ~~ တောရကျောင်းကို ဥဿောင်ဆုံး ဆရာတော်ဘုရားကြီး ဆောက်တဲ့ အချိန် ရောက်သွားသည်။ ကျောင်းမုခ်ဦး ဝင်းတွင် ဘုန်းကြီး တစ်ပါး ၊ ရေဖြည့် နေသော ဘုန်းကြီး တစ်ပါး ၊ တံမြက်လှည်း နေသော ဘုန်းကြီးတစ်ပါး ၊ ~~ ~~ ထို ဘုန်းကြီး (၃) ပါးလုံး သည် ဥဿောင်ဆုံး ဆရာတော် ဘုရားကြီး တစ်ပါးတည်း ဖြစ်သည်။

လက်ဏာ = ကရုဏာ = ဧကဆုံးမ (ဥဿောင်ဆုံး ဆရာတော်မူ)

~~လက်ဏာ~~

ဥဿောင်ဆုံး တောရ ၌ သတင်း သုံး ခဲ့

ဥဿောင်ဆုံး ဆရာတော် အိန္ဒိဝေဒ သည် ဝေဘူဆရာတော်ဘုရားကြီး နှင့် မတွေ့ခင် ဖြစ်ပေါ်ခဲ့သည်။

ဝေဘူဆရာတော် တောထွက် သက်တော် (၂၇) / ၂၈ (အဲဒီအခါ ဥဿောင်ဆုံး ဆရာတော် ဗိန္ဒိ ပေါ်ပြီး)

ဥဿောင်ဆုံးတောရဆရာတော်က သက်တော်ပိုကြီး ဝေဘူဆရာတော်ထက် (တစ်ဝါပဲ)

ဦးကောသလ ⇐ ရွှေဘိုပုသိမ်ဆရာတော် (ဝေဘူဆရာတော်ကို ကမ္မဋ္ဌာန်းပေး)

(ဘသုဏ)ဘုံဦးစုကို ရှိ (အနီး မှာ အများကြီး ရှိ ကျောင်း မှာထား ဥပမာရှိ တော့ဘူး)

~~ဝေဘူ~~ ဝေဘူဆရာတော်က တစ်ဝါ နည်း ခဲ့ပြီး တော့ တောထွက် (ရွှေဘိုပုသိမ် တောရ) ရွှေဘို မြို့ အရှေ့ ဘက် မှာရှိ

အာဂျန် ဗွတ်တီဿာဝါလ (Sergeant)

ဖိုးကြီး ဂျပ် က ဓာတ်တော်မွေတော်တွေကို ယူ။

ဒေဝါနံပိယတိဿ က ကိုရင်ဘဝမှာ (ကျောင်းမပျက်ခင် ဂူ.ထူ) ကို ပါတာလိပုတ်မှာ ဓာတ်တော် မွေတော် ကို ပင့် ခိုင်း တယ်။

၅၄(က) ဆက်စပ်မှုမရှိ

၆။ သံဃာယနာတွင် မဟာစည်ဆရာတော်ဘုရားကြီးက ကန်တော့

ဝေဘူဆရာတော်က  မစိုးရိမ်ဆရာတော်၊ ညောင်ရမ်းဆရာတော်

(ဦးသုရိယ)  (ဦးရေဝတ)

၅၄(ခ) မ ပြဿနာ

(က) ဝင်လေထွက်လေ နေရာမချဘဲနဲ့ သင်ပေးတယ်၊ အခြားကမ္မဋ္ဌာန်း

မသင်ပေး၊ ပေယထိပ်လည်းမသင်ပေး

(ဃ) ဖောင်းတာပိန်တာ ထောက်ခံပါတယ်

၆။ မြန်မာနိုင်ငံမှာ (၉)နှစ်  လ(၂၀) ဝေဘူဆရာတော်ဆီ

နဲ့ မဟာယာန  ထေရဝါဒ လေ့လာရန် ဂျာမန်သွား

အသက် (25) အပေါ်ကျော် တက္ကသိုလ်ဘွဲ့ရ

Ms. Clariss

ကလာရစ် တာဗင် ထေရမ်(မ်)

(ဂျာမနီ ဆရာလေး - မဥမ္ဘာ  မြန်မာနိုင်ငံရောက် ၁၉၆၂ နောက်ပိုင်း)

(ဂျာမန် တက္ကသိုလ်က မြန်မာစာဘွဲ့ရ)

မွေးရပ်မြေ Frankfurt မြို့  2014 တစ်ပတ် ဆရာတော် ဦးပဏ္ဍိတနဲ့တွေ့

အသိုးမ

အောင်တော်မူကန်နှင့် ကာယကန်၊ ဝစီကန်၊ မနောကန် ပေ၄၀ကွာသည်။

ကာယကန်၊ ဝစီကန်၊ မနောကန် တို့သည် ၄လ ပတ်လည် [illegible] ကြသည်။

၃ ကျောင်းရှိတာပေ - ဘုံ့တမ်းပြောတဲ့စကား

ခ။ ဒီ "ကန်/ကံ" ကိစ္စမှာ သေးသေးတင်နဲ့ ကံကို ထင်ပြီး ကာယကံ ဝစီကံ မနောကံ တွေကို ဂရုစိုက်အောင် သတိပေးထားတဲ့ ရေပန်း (ဖောင်တိန်) ဖြစ်ပါသလား ဘုရား။

ဂ။ အောင်တော်မူကန်တော်ကြီးက ဝေဘူဆရာတော်ဘုရားကြီး တရားအားထုတ်တော်မူခဲ့တဲ့ တဲအရှေ့မှာ ရှိတယ်တဲ့။ အဲဒီကန် ရေအပေါ်မှာ ဝေဘူဆရာတော်ဘုရားကြီးရဲ့ ရုပ်ပွားတော်ကို ထားပြီး မှန် (ဖန်) နဲ့ ပိတ်ထားတယ်တဲ့။ တကယ်လား ဘုရား။

ဃ။ အောင်တော်မူကန်တော်ကြီးနဲ့ပတ်သက်တဲ့ ပုံဝတ္ထု ရှိတယ်တဲ့။ တစ်ခါတုန်းက ရွာမှ ကောင်လေးတစ်ယောက်က ဝေဘူဆရာတော်ဘုရားကြီးကို "နိဗ္ဗာန်ဘယ်မှာ ရခဲ့လဲ ဘယ်လို ရခဲ့လဲ"လို့ မေးခဲ့တယ်တဲ့။ ဝေဘူဆရာတော်က အဲဒီအခါမှာ မဖြေခဲ့ဘူး။ နောက်မှ အောက်တော်မူကန်တော်ကြီးကို ဆောက်လုပ်နိုင်းပြီး ရေကန်ကို "အောင်တော်မူကန်တော်ကြီး"နာမည် ပေးလိုက်ပြီးတော့ ကောင်လေးရဲ့ အဖေကို ပြောပြတယ် "မင်း သားရဲ့ မေးခွန်းအတွက် ဒါအဖြေ ဖြစ်ပါတယ်"တဲ့။ ဒီကိစ္စကို ရှင်းပြချက် အမျိုးစုံနဲ့ လူတွေက ပြောပြကြတယ်။ တစ်နည်းမှာ အောင်တော်မူကန်တော်ကြီးအရှေ့မှာ တဲတွင် နိဗ္ဗာန်အောင်မြင်ခဲ့တယ်လို့ ပြောပြကြတယ်။ နောက်တစ်နည်းမှာတော့ အခု ဝေဘူဆရာတော်ဘုရားကြီးရဲ့ ရေကန်ထဲမှာ ရုပ်ပွားတော်နေရာဟာပဲ နိဗ္ဗာန်အောင်မြင်ခဲ့တဲ့ နေရာ ဖြစ်တယ်လို့ ပြောပြကြတယ်။ ဘယ်နည်းက မှန်လဲ သိချင်ပါတယ် ဘုရား။

၈ (၇၊ ၁၁) ။ အင်ကျင်းပင်မှာ အဆောက်အဦတွေကို မေးချင်ပါတယ် ဘုရား။ ထွတ်ခေါင်ကျောင်း ဆိုလည်း ခေါ်တယ်၊ ရွှေဘိုမြို့ အောင်မြေ ကျောင်းတိုက်မှာလည်း ရှိတယ်။

* က။ ထွတ်ခေါင်ဆိုတဲ့ အဆောက်အဦ ရှိတယ်တဲ့။ အဲဒီမှာ ဘာသိကောင်းစရာ ရှိပါသလဲ ဘုရား။

** ခ။ ယိုးဒယား သံအမတ်က အင်ကျင်းပင်မှာ အဆောက်အဦတစ်ခုကို ဆောက်ထားတယ်တဲ့။ ဘာ အဆောက်အဦလဲ ဘုရား။ အဲဒီ သံအမတ်ရဲ့ နာမည်ရော ပြောပေးပါလား ဘုရား။

ဂ။ ရေသောက်တဲ့ နေရာကို (ရေဒိုးစင်လား) ထူးဆန်းတဲ့ နာမည်ပေးတော်မူတယ် - "လူတိုင်း အချိန်မိပြီး လာကြတယ်"ဆိုတဲ့ နေရာနာမည်ဖြင့် အဲဒီ နေရာကို သတ်မှတ်ထားတယ်တဲ့။ အဲဒီနေရာနာမည် အတိအကျ သိချင်ပါတယ်ဘုရား - "လူတိုင်း အချိန်မိပြီး လာကြတယ်"လို့လား "လူအားလုံး မှန်တဲ့အချိန်မှာ ဒီကို လာတယ်"လို့လား။

ဃ။ ဓမ္မာရုံကိုလည်း ထူးဆန်းတဲ့ နာမည် ပေးတော်မူတယ်တဲ့ - "ရဟန္တာရဲ့ပုံသလောက် ခြသေ့ ဓမ္မာရုံ"တဲ့။

၉။ (၈) ဝေဘူဆရာတော်ဘုရားကြီးရဲ့ နေ့စဉ်ဘဝနဲ့ ပတ်သက်တဲ့အချက်အလက်တွေ အမျိုးစုံကို မှန်လား မှားလားလို့ စစ်ဆေးချင်ပါတယ် ဘုရား။

က။ ဝေဘူဆရာတော်ဘုရားကြီးက အချိန်ဇယား မပြောပြဘဲနဲ့ ယောဂီတွေက ကိုယ့် တာဝန်အမျိုးစုံကို တရားအားထုတ်တဲ့အချိန်နဲ့ အဆင်ပြေသလို ညှိပြီး အားထုတ်ရတယ်တဲ့။ မှန်လား ဘုရား။

ခ။ ဝေဘူဆရာတော် ဘုရားကြီးက စံကျောင်းမှာ မြတ်စွာဘုရားကို တစ်ရက်ကို သုံးကြိမ် ဆွမ်းကပ်တယ်တဲ့။ မနက်ဆွမ်းမတိုင်ခင် တစ်ခါ၊ မနက်ဆွမ်းအလှူခံပြီး တစ်ခါ၊ နေ့ဆွမ်းမတိုင်ခင် တစ်ခါတဲ့။ မှန်လား ဘုရား။

ဂ။ မနက်ပိုင်းမှာ ဩဝါဒ (သို့) ကမ္မဋ္ဌာန်း မပေးခင် ကျောင်း ကွန်ပေါင်းမြေနေရာ တော်တော်များမှာ တံမြက်စည်း လှည်းလေ့ရှိခဲ့တော်မူသည်တဲ့။

ဃ။ တံမြက်စည်း လှည်းပြီး ရဟန်းတွေကိုရယ် သီလရှင်တွေကိုရယ် ယောဂီတွေကိုရယ် ဒကာ ဒကာမတွေကိုရယ် ဩဝါဒ ပေးတော်မူခဲ့သည်တဲ့။

င။ မနက် ၇နာရီ (သို့) ၈နာရီမှာ ဆွမ်းခံထွက်ပြီး သုံးနာရီ လေးနာရီတောင် ကြာတတ်တယ်တဲ့။ ဒါ ဆွမ်း အများကြီး လက်ခံရလို့ ဖြစ်တယ်တဲ့။

* ရဟန်းများ သိမ်တင်၊ ဥပုသ်ရှင်။ ၂ ထပ်၊ ၁၆ ခန်း။ တရားအားထုတ်ကြရှင်။

** ~~ဦးရေအေး~~ ကိုရီးယား သံအမတ် (ဦးဘအောင်)
နဲ့ ယိုးဒယား ဘုံဗသာ တွေ တရားအားထုတ်တဲ့ကျောင်း

၈။ ဆွမ်းမှာ အမျိုးစားတူတဲ့ ဟင်းတွေကို အိုးအကြီးတွေမှာ အတူရောထားတာတဲ့။ ဝေဘူဆရာတော်ဘုရားကြီးက ဆွမ်းဘုဉ်းပေးတဲ့အခါ အိုးတိုင်းမှ လက်တစ်ဆုပ်လောက်ပဲ လက်ချောင်းတွေနဲ့ ယူတော်မူတယ်။ ဒါ ဒကာ ဒကာမတွေ အားလုံးမှာ ကုသိုလ်ရအောင် လုပ်ခဲ့ပါတယ်တဲ့။

ဆ။ ဝေဘူဆရာတော်ဘုရားကြီးက ဘုဉ်းပေးတော်မူပြီး သပိတ်မှာ ဆွမ်းဟင်းအပြည့်ထည့်ပြီး ဆရာတော် အဆောင်အပြင်မှာ စုထားတဲ့ ခွေးတွေကို ကျီးကောင်တွေကို ကျွေးတော်မူတယ်တဲ့။ ~~အဲဒီနောက်မှပဲ~~ ယောဂျား မိန်းမ ဒကာ ဒကာမတွေကို ဆွမ်းဟင်းတွေ ပိုင်းခြားပြီး စွန့်တော်မူတယ်တဲ့။

ဇ။ ဆွမ်းဘုဉ်းပေးပြီး သပိတ်ကို ဆေးလေ့ရှိပါတယ်။ ကိုယ့်အဆောင်အပြင်မှာလည်း တံမြက်စည်း လှည်းလေ့ရှိပါတယ်တဲ့။ (ဆွမ်းဘုဉ်းပေးတာ နဲ့ တံမြက်စည်း လှည်းတာ စုစုပေါင်း တစ်နာရီလောက် ကြာခဲ့တယ်တဲ့။)

ဈ။ နေ့လယ်မှ နေ့ခင်း လေးနာရီထိ ဆရာတော်ဘုရားကြီးက စံကျောင်းမှာ အနားလည်း ယူတတ်တယ်၊ တရားလည်း အားထုတ်တယ်၊ ရေလည်း ချိုးတတ်ပါတယ်တဲ့။

ည။ ညနေ (လေးနာရီ နောက်ပိုင်းမှာ) ~~တိုတိုလေး~~ တရားတစ်ပုဒ် ဟောလေ့ရှိပါတယ်။ တရားတော်က တိုပေမယ့် အနက်မှာ လေးနက်တယ်တဲ့။ အဲဒီအချိန်မှာလည်း ဧည့်သည်တွေကို လက်ခံတော်မူတယ်တဲ့။

ဋ။ ညနေ လေးနာရီခွဲမှ ငါးနာရီထိ ဆေးတွေကို လက်ခံတော်မူတယ်တဲ့။ ထန်းလျက်၊ ချိုချဉ်နဲ့ ဖျော်ရည် ရတော်မူတယ်တဲ့။ အဲဒီအခါမှာလည်း ~~သီလရှင်တွေကို သီလ ပေးတော်မူတတ်တယ်တဲ့။~~

~~ဌ။~~ ညနေ နောက်ပိုင်းမှာ ပုရိသတ်~~အကြီး~~လာပြီး တရားတော် ~~အကြီးကိုး~~ ဟောလေ့ရှိတယ်တဲ့။

ဍ။ ညမှာ ~~စင်အကြီးမှာ~~ နတ်တွေကို သရဲတွေကို တရားဟောလေ့ရှိတယ်တဲ့။ (ဒီ စင်အကြီးက အင်ကျင်းပင် တောရမှာ ဘယ်မှာရှိပါသလဲ ဘုရား။)

ပ။ ဝေဘူဆရာတော်ဘုရားကြီးရဲ့ ကျောင်းသုံးကျောင်းမှာ အင်ကျင်းပင်တောရမှာတစ်ကျောင်းဖြစ်ပါတယ်တဲ့။ အင်ကျင်းပင်တောရမှာ ယောဂီတွေ အားလုံးက ဆယ်ပါးသီလ ဆောက်တည်ရမယ်တဲ့။ ဒီကိစ္စမှာ ကိုသီဟ ရေးထားတာ - တချို့ကတော့ ညနေမှာ တရားနာပြီး သာဓု သုံးကြိမ်ခေါ်ပြီး ကိုယ့်ကိစ္စတွေ လုပ်ကြတယ်တဲ့။ ဒါဆို တချို့ယောဂီတွေက တရက်လုံးမှာ ဆယ်ပါးသီလ လိုက်နာပြီး ညမှာ တရားနာပြီး ငါးပါးသီလကို ပြန်ဆင်းကျတယ်လား ဘုရား။

၁၀ (၉) ။ ဝေဘူဆရာတော်ဘုရားကြီးကို ဖူးခဲ့တဲ့ ပုဂ္ဂလ်တွေကို မေးချင်ပါတယ် ဘုရား။

က။ ဝိဇ္ဇာဘိုးမင်းခေါင်နဲ့ မင်းဘုရင် ရှင်မထီ တို့က ဆရာတော်ကို ဖူးပြီး ဦးချခဲ့တယ်တဲ့။ တကယ်လား ဘုရား။

ခ။ အင်္ဂလိပ်စကားမှာ ချဲ့ကားပြောထားတာတွေရှိနိုင်ပါတယ် ဘုရား။ ကိုသီဟ တွေ့ဖူးတာမှာ "လူတွေက အင်ကျင်းပင်မသွားရင် ဝေဘူဆရာတော်နဲ့ မတွေ့ရင် အသက်မရှင်နိုင်ဘူး"တဲ့။ (People could not live without going to the places of Ingyinbin and Webu Sayadaw)။ တကယ်လား ဘုရား။

၁၁ (၁၀) ။ ~~၁၉၉၇~~ ခုနှစ်မှလောက် ဝေဘူဆရာတော်ဘုရားကြီးက ဗျာဒိတ် မိန့်တော်မူခဲ့တယ်တဲ့။ တစ်ကမ္ဘာလုံးမှ နိုင်ငံခြားသားတွေ အများကြီးက အင်ကျင်းပင်ကို လာဖူးလိမ့်မယ်တဲ့။ အဲဒီမှာ ဘယ် စကားလုံးတွေနဲ့ နိုင်ငံခြားသားတွေကို ခေါ်ခဲ့ပါသလဲ ဘုရား။ "နလုံးကောင်း နိုင်ငံခြားသားတွေ"လား "စိတ်ကောင်း တိုင်းတစ်ပြည်သားတွေ"လား။ အသုံးပြုခဲ့တဲ့ စကားလုံးကို အတိအကျ လိုအပ်ပါတယ် ဘုရား။

၁၂။ ဆရာတော် ~~ဦးမင်္ဂလာက မဟာကဿပ~~ဘုရားရဲ့ သက်တန်း နှစ်ပေါင်း ၁၆၀ လို့ မိန့်တော်မူခဲ့ပါတယ်တဲ့။ မဟာကဿပဘုရားရဲ့ သက်တန်း နှစ်ပေါင်း ၁၆၀ ဖြစ်တယ်လို့ ဘယ်ကျမ်းဂန်မှာ တွေ့ခဲ့ပါသလဲ ဘုရား။ (ဒီယနိကာယ်

ဂျာမနီသီလာရင်  မကာ္ဘနဝတီ
မန်မာအမည်  မညွှာခင်
ဂျာမနီအမည်  Lottermoser
သုမသည်ရန်ကုန်တက္ကသိုလ်တွင်
မြန်မာစာဖြင့် MA ဖြစ်သည်။
သုမသည်ဒေါက်တာဆရာတော်နှင့်ဦး
ဘခင်တို့၏တပည့်ဖြစ်ပါသည်။

၁၂။ ဆရာတော် ဦးမင်္ဂလက မဟာကဿပဘုရားရဲ့ သက်တန်း နှစ်ပေါင်း ၁၆၀ လို့ မိန့်တော်မူခဲ့ပါတယ်တဲ့။ မဟာကဿပဘုရားရဲ့ သက်တန်း နှစ်ပေါင်း ၁၆၀ ဖြစ်တယ်လို့ ဘယ်ကျမ်းဂန်မှာ တွေ့ခဲ့ပါသလဲ ဘုရား။ (ဒီဃနိကာယ် အဋ္ဌကထာမှာ မဟာပဒါနသုတ် - အာယုပရိစ္ဆေဒဝဏ္ဏနာရယ် အင်္ဂုတ္တိုရ်နိကာယ် ခုနစ် အရကသုတ် ဋီကာရယ် အတိုင်း *"တတ္ထ ဝိသာခါ ဥပါသိကာ ဝီသဝဿသတံ ဇီဝတိ၊ တထာ ပေါက္ခရသာတိ ဗြာဟ္မဏော၊ ဗြဟ္မာယု ဗြာဟ္မဏော၊ သေလော ဗြာဟ္မဏော၊ ဗာဝရိယ ဗြာဟ္မဏော၊ အာနန္ဒတ္ထေရော၊ မဟာကဿပတ္ထေရောတိ။"* တွေ့ရပါတယ်။ သို့သော်လည်း ဒီဃနိကာယ် အဋ္ဌကထာမှာ သက္ကပဉ္ဟသုတ်အတိုင်း "မဟာကဿပတ္ထေရော ဝီသဝဿသတံ မဇ္ဈေ ပိဋ္ဌိ န ပသာရေသိ။"လို့ တွေ့ရပါတယ်။ ရဟန်းအဖြစ်ကို အသက် ၂၀မှာ ရခဲ့တယ်ဆိုရင် သက်တန်း ၁၂၀ ရှိခဲ့တဲ့ဆိုတော့ နေသင်္ချိုင်းစုတင်ကို နှစ် (၁၀၀)ပဲ ကျင့်ခဲ့ပါတယ်။ ရဟန်းမဖြစ်ခင် သူ့အမျိုးသမီး ဘဒ္ဒါ ကါပိလာနီနဲ့ ခုတင်းမှာ လဲလျောင်းခဲ့တယ်ဆိုတာ သံယုတ်နိကာယ် ကဿပသံယုတ် စီဝရသုတ် အဋ္ဌကထာမှာ တွေ့ရပါတယ် - *"တဒိဝသံယေဝ စ မာဏဝေါပိ ဇော ပုပ္ဖဒါမံ ဂန္ထာပေသိ၊ ဘဒ္ဒါပိ ဇော ဂန္ထာပေသိ။ တာနိ အာသနမဇ္ဈေ ဌပေတွာ ဘုတ္တသာယမာသာ ဥဘောပိ - သယနံ အာရုဟိဿာမာတိ သမာဂန္တွာ မာဏဝေါ ဒက္ခိဏပဿေန သယနံ အာရုဟိ။"*))

၁၃။ Roger Bischoffဟာ ဝေဘူဆရာတော်ဘုရားကြီးနဲ့ ဘယ်လို ဆိုင်လဲ ဘုရား။ Roger Bishoffက ဝေဘူဆရာတော်ဘုရားကြီးရဲ့ တရားတော်တွေ အကြောင်းတွေ အင်္ဂလိပ်လို အများကြီး ဘာသာပြန်ထားပါတယ် ဘုရား။ IMC မှာလည်း အများကြီး တရားအားထုတ်ခဲ့ပါတယ် ဘုရား။

၁၄။ ဝေဘူဆရာတော်ဘုရားကြီးက မြန်မာလို ဘာ စာအုပ်တွေ ရေးသားပြုစုတော်မူခဲ့ပါသလဲ ဘုရား။ "Essence of Buddha Dhamma" (ဗုဒ္ဓဓမ္မ အနှစ်သာရ) ဆိုတာ စာအုပ်တစ်အုပ်ရဲ့ နာမည် ဖြစ်တယ်တဲ့။ ဒီစာအုပ်နဲ့ပတ်သက်ပြီ ကြားဖူးပါလား ဘုရား။

၁၅။ သဗ္ဗညုစေတီတော်ကြီးက အစမှာ သဲပုံစေတီအဖြစ် တည်ထားတယ်ဆိုတော့ သဲတွေကို ဘယ်ကရခဲ့လဲတဲ့။ အင်ကြင်းပင်က ပင်လယ် သမုဒ္ဒရာမှ ဝေးတယ်ဆိုတော့ သဲတွေ ဘယ်ကရခဲ့လဲ ဘုရား။

၁၆။ ဝေဘူဆရာတော်ဘုရားကြီးနဲ့ပတ်သက်တဲ့ ဗျာဒိတ် ရှိခဲ့ပါတယ်တဲ့ - "အင်ကြင်းပင်သည် ပွင့်~~ရင့်အခါ~~ ခန္ဓာဝန်ချမည်တဲ့။"
က) ဒီဗျာဒိတ်ကို ဘယ်သူဟောခဲ့လဲ ဘုရား။
ခ) ဘယ်တုန်းက ဟောခဲ့ပါသလဲ ဘုရား။
ဂ) ဝေဘူဆရာတော်ဘုရားကြီးက ဗျာဒိတ်အတိုင်း ခန္ဓာဝန် ချခဲ့ပါလား ဘုရား။
ဃ) အင်ကြင်းပင်က နှစ်တိုင်းနှစ်တိုင်း ပွင့်တယ်ဆိုတော့ ဗျာဒိတ်ရဲ့ ထူးခြားချက်ဘာလဲ ဘုရား။
င) ဒီကိစ္စနဲ့ပတ်သက်တာ တခြားဘာသိကောင်းစရာ ရှိပါသလဲ ဘုရား။

၁၇။ ခင်ဦးမှာ ညောင်လုံးတောရရှိတယ်တဲ့။ ကိုသီဟက ညောင်လုံးတောရနဲ့ ပတ်သက်တာ အရှင်ဘုရား သိသမျှ သိချင်တယ်တဲ့။
က) ရွှေဘိုခရိုင်မှာ ခင်ဦးရွာဟာ အကြီးဆုံးရွာ ဖြစ်တယ်တဲ့။ အင်ကြင်းပင်ရွာမှ ~~၁၀~~ မိုင်လောက်ဝေးတယ်။ ခင်ဦးရွာမှ အင်ကြင်းပင်ကို သွားလမ်းမှာ ညောင်လုံးတောရကျောင်း ရှိပါတယ်တဲ့။
ခ) ညောင်လုံးတောရဆရာတော်က သူ့ခေတ်မှာ အကြီးဆုံး ပဋိပတ္တိတရားပြဆရာတော်တွေအနက်မှာ တစ်ပါးဖြစ်တယ်တဲ့။ ညောင်လုံးတောရဆရာတော်ရဲ့ ပင်မအဓိကကျောင်းကတော့ မိတ္ထီလာ (မွန္တလေးတိုင်းလယ်ဗဟို)မှာ ရှိပါတယ်တဲ့။

၁၈။ Way Bu Shwe Bo (04mins:36sec) (clear)

အများစုကသိကြတာက ဝေဘူဆရာတော်ကြီးဟာ အာနာပါနကို ရှုတယ် တစ်ချို့ရင်းနှီးတဲ့သူတွေကျတော့ ငယ်ထိပ်ကိုမှတ်နိုင်းတယ်လို့ ပြောကြပါတယ်။ ဆရာကြီးဦးဘခင်ဟာ ဆရာတော်ကြီးကို လာရောက်ဖူးမြော်စဉ်က တရားစစ်တဲ့အခါ ငယ်ထိပ်ကိုရှုနိုင်းပါတယ် ပြီးမှ တခြားသောသူတွေကို ဆရာတော်ကြီးလမ်းစဉ်အတိုင်း တရားပြဖို့ ခွင့်ပြုခဲ့ဖြစ်ပါတယ်။